ကုမ္ပဏီအမည် - Loscam Myanmar Ltd.

လုပ်ငန်း - ရခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Providing pallet and other supply chain equipment rental and pooling solutions services (ပစ္စည်းများ သိုလှောင်ခြင်း၊ ရွှေ့ပြောင်းခြင်း နှင့် ထုတ်လုပ်ဖြန့်ဖြူးခြင်းလုပ်ငန်းစဉ်တွင် အသုံးပြုသည့်သစ်သားအောက်ခံပြားများ နှင့် ကိရိယာများကို ငှားရမ်းခြင်းနှင့် ပြုပြင်ထိန်းသိမ်းခြင်းဝန်ဆောင်မှုလုပ်ငန်း)

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | ကုမ္ပဏီမှအဆိုပြုလွှာတင်ပြလာခြင်း | ၃-၂-၂၀၁၆ | | |
| ၂ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး ၆/၂၀၁၆ သို့တင်ပြခြင်း | ၈-၂-၂၀၁၆ | | |
| ၃ | PAT အစည်းအဝေးဆုံးဖြတ်ချက်အရ (၇/၂၀၁၆) ကြိမ်မြောက်ကော်မရှင် အစည်းအဝေးသို့တင်ပြ လမ်းညွှန်မှုခံယူခြင်း | ၂၆-၂-၂၀၁၆ | | |
| ၄ | အစည်းအဝေးဆုံးဖြတ်ချက်ပေးပို့ခြင်း | ၉-၃-၂၀၁၆ | | |
| ၅ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | ၂၉-၂-၂၀၁၆ | ၁၃-၃-၂၀၁၆ | |
| | (ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | ၂၉-၂-၂၀၁၆ | ၁၇-၃-၂၀၁၆ | |
| ၆ | ကုမ္ပဏီသို့ဌာနဆိုင်ရာသဘောထားမှတ်ချက်များ အရပြင်ဆင်တင်ပြရန်အကြောင်းကြားခြင်း | ၂၁-၃-၂၀၁၆ | | |
| ၇ | ကုမ္ပဏီမှလိုအပ်ချက်များပြင်ဆင်တင်ပြလာခြင်း | ၁၈-၃-၂၀၁၆ | | |
| ၈ | ကော်မရှင်အစည်းအဝေးသို့တင်ပြခြင်း (၁၂/၂၀၁၆)MIC | (၂၇-၆-၂၀၁၆) | | |
| | **စုစုပေါင်းကြာမြင့်ရက် ၁၄၄ ရက်** | | | |

| | |
|---|---|
| ကုမ္ပဏီအမည် | Loscam Myanmar Ltd. |
| အဖွဲ့အစည်းပုံသဏ္ဍာန် | ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Providing Pallet and other supply chain equipment rental and pooling solutions services (ပစ္စည်းများသိုလှောင်ခြင်း၊ ရွှေ့ပြောင်းခြင်းနှင့်ထုတ်လုပ်ဖြန့်ဖြူးခြင်း လုပ်ငန်းစဉ်တွင်အသုံးပြုသည့်သစ်သားအောက်ခံပြားများနှင့် ကိရိယာများကို ငှားရမ်းခြင်းနှင့် ပြုပြင်ထိန်းသိမ်း ခြင်းဝန်ဆောင်မှုလုပ်ငန်း) |
| တည်နေရာ | ၈လွှာ-A၊ UNION FINANCIAL CENTRE (UFC)၊ မဟာဗန္ဓုလလမ်းနှင့် သိမ်ဖြူလမ်းထောင့်၊ ဗိုလ်တထောင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး၊ အမှတ်(၅)၊ မင်းကြီးမဟာမင်းခေါင်လမ်း၊ ရွှေပြည်သာစက်မှုဇုန် (၃)၊ ရွှေပြည်သာမြို့နယ်၊ရန်ကုန်တိုင်းဒေသကြီး |
| စုစုပေါင်းမတည်ငွေရင်း | အမေရိကန် ဒေါ်လာ ၀.၅၀ သန်း |
| လုပ်ငန်းသက်တမ်း | ၁၀ နှစ် |
| အရင်းကြေကာလ | ၈ နှစ် |
| IRR | ၁၈.၇ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ကျပ် ၃.၀၀ သန်း (တစ်နှစ်) | - |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ကျပ် ၁.၂၀ သန်း |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | - | - |
| ၄ | ဝင်ငွေခွန် | ကျပ် ၅၀၀.၇၀ သန်း | ကျပ် ၂၄၄၀.၈၀ သန်း |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | - | ကျပ် ၄၄၀.၄၀ သန်း |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | - | - |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | - | ကျပ် ၅.၈၈ သန်း<br>တစ်နှစ်ဝင်ငွေကျပ် သိန်း(၄၈) ကျော်ပါကအခွန်ပေးရမည့်ဝန်ထမ်း (၅၄) ဦး |
| ၈ | CSR (၁%) | - | ကျပ် ၃၀.၃၄ သန်း |
| ၉ | မြေငှားရမ်းခငွေ | - | - |
| ၁၀ | အလုပ်အကိုင်အခွင့်အလမ်း (၆ နှစ်မြောက်) | - | ပြည်တွင်း လုပ်သား (၅၄) ဦး<br>ပြည်ပ ၂ ဦး<br>အလုပ်အကိုင် ရရှိမည်ဖြစ်၍ ဒေသအလုပ်အကိုင် အခွင့်အလမ်း နှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူပြုစေပါသည်။ |
| | | ကျပ် ၅၀၃.၇ သန်း | ကျပ် ၁,၉၂၃.၀၂ သန်း |
| | | ၁ : ၄ | |

**Loscam Myanmar Ltd. မှ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Providing pallet and other supply chain equipment rental and pooling solutions services (ပစ္စည်းများသိုလှောင်ခြင်း၊ ရွှေ့ပြောင်းခြင်း နှင့် ထုတ်လုပ်ဖြန့်ဖြူးခြင်း လုပ်ငန်းစဉ်တွင် အသုံးပြုသည့် သစ်သားအောက်ခံပြားများ နှင့် ကိရိယာများကို ငှားရမ်းခြင်း နှင့် ပြုပြင်ထိန်းသိမ်းခြင်းဝန်ဆောင်မှုလုပ်ငန်း)**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - Mr. Tan Leng Aun (Malaysia) |
| ၂။ | ရင်းနှီးမြှုပ်နှံမှုပုံစံ | - Loscam Asia Private Limited (Singapore) ၉၉.၉၉၈%<br>- China Merchants Loscam (Asia Pacific) Co., Limited (Hong Kong) ၀.၀၀၂ % |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - Providing pallet and other supply chain equipment rental and pooling solutions services (ပစ္စည်းများသိုလှောင်ခြင်း၊ ရွှေ့ပြောင်းခြင်း နှင့် ထုတ်လုပ်ဖြန့်ဖြူးခြင်း လုပ်ငန်းစဉ်တွင်အသုံးပြုသည့် သစ်သားအောက်ခံပြားများ နှင့် ကိရိယာများကို ငှားရမ်းခြင်း နှင့် ပြုပြင်ထိန်းသိမ်းခြင်းဝန်ဆောင်မှုလုပ်ငန်း) |
| ၄။ | ရုံးခန်းနေရာ<br><br>လုပ်ငန်းနေရာ | - ၈လွှာ-A၊ Union Financial Centre (UFC)၊ မဟာဗန္ဓုလလမ်းနှင့်သိမ်ဖြူလမ်းထောင့်၊ ဗိုလ်တထောင်မြို့နယ်၊ ရန်ကုန်မြို့။<br>- မြေကွက်အမှတ်(၅)၊ မြေတိုင်းရပ်ကွက်အမှတ်(၆၄)၊ မင်းကြီးမဟာမင်းခေါင်လမ်း၊ ရွှေပြည်သာစက်မှုဇုန်(၃)၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်မြို့ရှိ မြေ ၂.၀၀၉ ဧက(၈၁၃၀.၁၄၂ စတုရန်းမီတာ) နှင့် အဆောက်အဦ (၁၅,၂၇၁ စတုရန်းပေ) |
| ၅။ | စုစုပေါင်းမတည်ငွေရင်း | - အမေရိကန်ဒေါ်လာ ၀.၅ သန်း |
| ၆။ | တည်ဆောက်ရေးကာလ | - မရှိပါ |
| ၇။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - ၁၀ နှစ် |
| ၈။ | မြေငှားစာချုပ်သက်တမ်း | - ၅ နှစ် |
| ၉။ | ကုမ္ပဏီ၏ (၆)နှစ်မြောက်ဝန်ဆောင်မှု | စဉ် / ဝန်ဆောင်မှု အမျိုးအစား / ဝန်ဆောင်မှုပေးမည့် (ယူနစ်)/တစ်နှစ် / တစ်ယူနစ်နှုန်း (US$)/year / ပုံမှန်နှစ်ဝင်ငွေ (US$ သန်း)<br>(က) / Pallets on Hire / ၅၇၈,၀၀၀ / ၆.၈၅ / ၃.၉၆ |
| ၁၀။ | ကုမ္ပဏီ၏(၆)နှစ်မြောက်ဝင်ငွေ | - US$ ၃.၉၆ သန်း |
| ၁၁။ | အသားတင်အမြတ် | - US$ ၀.၆၀ သန်း |
| ၁၂။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ် (၆)နှစ်မြောက်<br>ဝင်ငွေခွန်<br>ကုန်သွယ်လုပ်ငန်းခွန် | <br><br>- US$ ၀.၂၀ သန်း<br>- US$ ၀.၂၀ သန်း |
| ၁၃။ | ဝန်ထမ်းအင်အား<br><br>ပြည်တွင်း<br>ပြည်ပ | - ပထမနှစ်တွင် ၄ ဦး ဖြင့်စတင်မည်ဖြစ်ပြီး၊ (၆)နှစ်မြောက်တွင် ၅၆ ဦး ဖြစ်လာမည်ဖြစ်ကြောင်း တင်ပြထားပါသည်။<br>၂ ဦး (တစ်လလျှင် ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ US$ ၃၅၀၊ အမြင့်ဆုံးလစာမှာ US$ ၁,၅၀၀ ဖြစ်ပါသည်။)<br>၂ ဦး (တစ်လလျှင် ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ US$ ၂၅၀၊ အမြင့်ဆုံးလစာမှာ ကျပ် US$ ၃၅၀ ဖြစ်ပါသည်။) |
| ၁၄။ | အရင်းကြေကာလ | - ၈ နှစ် |
| ၁၅။ | အရင်းအနှီးပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | - ၁၈.၇ % |

| | | |
|---|---|---|
| ၁၆။ | ငွေကြေးအထောက်အထား | - Loscam Asia Private Limited (စင်ကာပူရုံးခွဲ) အမည်ဖြင့် HSBC Limited (ဟောင်ကောင်ဘဏ်ခွဲ) ၌ ၂၀၁၅ ခုနှစ်၊ ဒီဇင်ဘာ လ ၃၁ ရက်နေ့ ၌ USD ၈၅၈,၁၁၁ ရှိကြောင်းတင်ပြထားပါသည်။<br>- China Merchants Loscam (Asia Pacific) Co., Ltd. အမည်ဖြင့် ၂၀၁၅ ခုနှစ်၊ ဒီဇင်ဘာ လ ၃၁ ရက်နေ့တွင် HSBC (ဟောင်ကောင်ဘဏ်ခွဲ)၌ USD ၁၃,၃၅၄,၈၄၂.၆၇ ရှိကြောင်း တင်ပြထားပါသည်။ |
| ၁၇။ | မြေနှင့်အဆောက်အဦငှားရမ်းခြင်းစာချုပ်(မူကြမ်း)ပါအဓိကအချက်များ | Loscam Myanmar Ltd. နှင့် မြေပိုင်ရှင် ဒေါ်တင်တင်ဦး(ခ) ဒေါ်နုနုဝင်း တို့ ချုပ်ဆိုမည့် မြေနှင့်အဆောက်အဦ ငှားရမ်းခြင်း သဘောတူစာချုပ် (မူကြမ်း) ပါ အဓိက အချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-<br>(က) အမှတ် (၅)၊ မင်းကြီးမဟာမင်းခေါင်လမ်း၊ ရွှေပြည်သာ စက်မှုဇုန်(၃)၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်မြို့ရှိ မြေ ၂.၀၀၉ ဧက နှင့် သိုလှောင်ရုံ အဆောက်အဦ (၁၅,၂၇၁ စတုရန်းပေ) အား ငှားရမ်းဆောင်ရွက်မည် ဖြစ်ပါသည်။<br>(ခ) မြေနှင့်အဆောက်အဦငှားရမ်းသည့်သက်တမ်းကာလမှာ (၁-၁-၂၀၁၆) ရက်နေ့မှ (၃၁-၁၂-၂၀၂၀) ရက်နေ့အထိ ၅ နှစ် ဖြစ်ပါသည်။<br>(ဂ) မြေနှင့် အဆောက်အဦ ငှားရမ်းခနှုန်းမှာ တစ်လလျှင် ကျပ် ၅ သိန်း ဖြစ်ပါသည်။ |
| ၁၈။ | အခြားတင်ပြချက်များ | (က) Loscam Myanmar Limited သည် (၁၆-၆-၂၀၁၅) ရက်နေ့တွင် ဖွဲ့စည်းမှတ်ပုံတင်ခဲ့ပြီး ကုမ္ပဏီမှတ်ပုံတင်လက်မှတ်၊ MOA ,AOA နှင့် ဒါရိုက်တာစာရင်းတို့အား တင်ပြထားပါသည်။<br>(ခ) နှစ်စဉ်အသားတင်အမြတ်၏ ၁ % အား CSR လုပ်ငန်းများဆောင်ရွက်မည်ဖြစ်ကြောင်းတင်ပြထားပါသည်။<br>(ဂ) ပစ္စည်းကိရိယာတန်ဆာပလာများ ငှားရမ်းခြင်းအတွက် customers များနှင့်ချုပ်ဆိုမည့် စာချုပ်(မူကြမ်း)ပုံစံကို တင်ပြထားပါသည်။<br>(ဃ) အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် အသုံးပြုမည့် Pallet နမူနာပုံစံများကိုတင်ပြထားပါသည်။<br>(င) ကုန်လှောင်ရုံများတွင် ပစ္စည်းများသိုလှောင်ရန်နှင့် ပစ္စည်းများရွှေ့ပြောင်းစဉ်တွင် အသုံးပြုသည့် သစ်သားအောက်ခံပြားများ၊ အဆိုပါ ပစ္စည်းများထားရန်နေရာများနှင့် ထုတ်လုပ်ဖြန့်ဖြူးခြင်း လုပ်ငန်းစဉ်တွင်အသုံးပြုသော ပြန်လည်ပေးသွင်းနိုင်သည့် ကိရိယာများကို ပိုင်ဆိုင်ခြင်း၊ စီမံခန့်ခွဲခြင်းနှင့် နေရာခွဲဝေခြင်း၊ တပေါင်းတည်းထားခြင်းနှင့်ငှားရမ်းခြင်းများ၊ သစ်သားအောက်ခံပြားများ၊ အဆိုပါပစ္စည်းများထားရန်နေရာများနှင့် ထုတ်လုပ်ဖြန့်ဖြူးခြင်းလုပ်ငန်းစဉ်တွင် အသုံးပြုသော ပြန်လည်သုံးစွဲနိုင်သည့် ကိရိယာများကို အသုံးပြုကာ ဖြန့်ဖြူးမှုလုပ်ငန်းစဉ်များနှင့် ပို့ကုန်/သွင်းကုန်လုပ်ငန်းများကို ဆောင်ရွက်ခြင်း၊ သစ်သားအောက်ခံပြားများနှင့် ထုတ်လုပ်ဖြန့်ဖြူးခြင်း လုပ်ငန်းစဉ်တွင် အသုံးပြုသော ပြန်လည်ပေးသွင်းနိုင်သည့် ကိရိယာများကို ပြင်ဆင်ခြင်း၊ ဝန်ဆောင်မှုပေးခြင်း၊ ပြုပြင်ထိန်းသိမ်းခြင်းနှင့် အဆင့်မြှင့်တင်ခြင်း ဝန်ဆောင်မှုလုပ်ငန်းများကို ဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၁၉။ | စိစစ်တင်ပြချက် | (က) ကုမ္ပဏီ၏ဝင်ငွေ၊ နိုင်ငံတော်မှရရှိမည့် အကျိုးအမြတ်နှင့် အရင်းအနှီး |

အပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်းတို့မှာ ကုမ္ပဏီမှတင်ပြချက်အရဖော်ပြထားခြင်းသာဖြစ်ပါသည်။

(ခ) အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၂၀၁၆ ခုနှစ်၊ မတ်လ ၂၁ ရက်နေ့ပါ အမိန့်ကြော်ငြာစာအမှတ် ၂၆/၂၀၁၆ အရ ခွင့်မပြုသည့်စီးပွားရေး လုပ်ငန်းအမျိုးအစားစာရင်း၊ နိုင်ငံသားနှင့် ဖက်စပ်စနစ်ဖြင့်သာ ဆောင်ရွက်ခွင့်ပြုသည့် စီးပွားရေးလုပ်ငန်းအမျိုးအစားစာရင်းတွင် ပါဝင်ခြင်းမရှိကြောင်းနှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၂၀၁၄ ခုနှစ်၊ ဩဂုတ်လ ၁၉ ရက်နေ့ပါ အမိန့်ကြော်ငြာစာအမှတ် ၅၀/၂၀၁၄ အရ အကောက်ခွန် ကင်းလွတ်ခွင့်၊ သက်သာခွင့်နှင့် ကုန်သွယ်လုပ်ငန်းခွန် ကင်းလွတ်ခွင့်၊ သက်သာခွင့် မပေးသော လုပ်ငန်းများစာရင်းတွင် ပါဝင်ခြင်း မရှိကြောင်း စိစစ်ရပါသည်။

(ဂ) Loscam Asia Private Limited ကို (၂၈-၆-၁၉၉၄) ရက်နေ့ တွင် စင်ကာပူနိုင်ငံတွင် ဖွဲ့စည်းမှတ်ပုံတင်ခဲ့ပြီး import & export၊ general merchants၊ commission agent၊ manufacturing၊ wholesaling၊ distributing of building material၊ machinery၊ plant၊ equipment အစရှိသည့် လုပ်ငန်းများ ဆောင်ရွက်လျက်ရှိကြောင်း၊ China Merchants Loscam (Asia Pacific) Co., Limited ကို (၆-၅-၂၀၁၁) ရက်နေ့တွင် ဟောင်ကောင်၌ ဖွဲ့စည်းမှတ်ပုံတင်ခဲ့ပြီး Hiring of metal, plastics, wooden and plywood pallets (Hiring Equipment for logistic Solutions) လုပ်ငန်း ဆောင်ရွက်လျက်ရှိကြောင်း စိစစ်ရပါသည်။

(ဃ) Loscam သည် ထုတ်လုပ်ဖြန့်ဖြူးမှု လုပ်ငန်းစဉ်တွင် အသုံးပြုသည့် ပြန်လည်ပေးသွင်းနိုင်သော ပစ္စည်းများ (ပစ္စည်းများ သိုလှောင်ခြင်းနှင့် ရွှေ့ပြောင်းစဉ်တွင် အသုံးပြုသည့် သစ်သားအောက်ခံပြားများနှင့် ကိရိယာများ) ငှားရမ်းခြင်း၊ ပြုပြင်ထိန်းသိမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်းကို ထိုင်း၊ အင်ဒိုနီးရှား၊ ဟောင်ကောင်၊ ဗီယက်နမ်၊ မလေးရှား၊ စင်ကာပူ၊ ဖိလစ်ပိုင်၊ တရုတ်၊ ဩစတြေးလျ၊ နယူးဇီလန် အစရှိသည့် အာရှပစိဖိတ်ဒေသအတွင်းရှိ နိုင်ငံပေါင်း (၁၁) နိုင်ငံ၌ ဆောင်ရွက်လျက်ရှိကြောင်း စိစစ်ရပါသည်။

(င) Loscam Myanmar Ltd. သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် လုပ်ငန်း မြေနေရာ နှင့် သိုလှောင်ရုံ နှစ်ရှည်ငှားရမ်း ဆောင်ရွက်လိုခြင်း၊ လုပ်ငန်းတွင် အသုံးပြုရန်လိုအပ်သည့် Pallet Kits၊ machineries နှင့် equipment များတင်သွင်းလိုခြင်း၊ Loscam Myanmar Ltd. ၏ customer များ၏ ကုန်ပစ္စည်းများ import & export ဆောင်ရွက်ရာတွင် အသုံးပြုမည့် Pallet များ (Cross Border Palletized Goods Movement) ဆောင်ရွက်ရာတွင် အဆင်ပြေစွာ ဆောင်ရွက်နိုင်ရန် ကော်မရှင်ခွင့်ပြုမိန့် လျှောက်ထားလိုခြင်းဖြစ်ကြောင်း စိစစ်ရပါသည်။

(စ) ကုမ္ပဏီမှအဆိုပြုလုပ်ငန်းဆောင်ရွက်ရန်အမေရိကန်ဒေါ်လာ ၁.၀၃သန်းတန်ဖိုးရှိ Wooden Pallets၊ Plastic Pallets၊ Crates၊ Containers၊ Totes များ၊ Wooden Pallet Repair Components များ၊ Depot Equipment and Tools များနှင့် Office Equipment များ တင်သွင်းဆောင်ရွက်မည်ဖြစ်ကြောင်းစိစစ်ရပါသည်။

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊မရက-၅(အ)/န-၀၁၅/၂၀၁၆ (၃၄၀)
ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဇွန် လ ၁၃ ရက်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့
တင်ပြသည့်အမှာစာ

အကြောင်းအရာ။ Loscam Myanmar Ltd. မှ ရခိုင်ပြည်နယ်ပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Providing pallet and other supply chain equipment rental and pooling solutions services (ပစ္စည်းများသိုလှောင်ခြင်း၊ ရွှေ့ပြောင်းခြင်း နှင့် ထုတ်လုပ်ဖြန့်ဖြူးခြင်းလုပ်ငန်းစဉ်တွင် အသုံးပြုသည့်သစ်သား အောက်ခံပြားများ နှင့် ကိရိယာများကို ငှားရမ်းခြင်းနှင့် ပြုပြင်ထိန်းသိမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်း) ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ

၁။ စင်ကာပူနိုင်ငံ Loscam Asia Private Limited မှ ၉၉.၉၉၈ %၊ ဟောင်ကောင် China Merchants Loscam (Asia Pacific) Co., Limited မှ ၀.၀၀၂ % ထည့်ဝင်ကာ ရခိုင်ပြည်နယ်ပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Loscam Myanmar Limited တည်ထောင်၍ Providing pallet and other supply chain equipment rental and pooling solutions services (ပစ္စည်းများသိုလှောင်ခြင်း၊ ရွှေ့ပြောင်းခြင်း နှင့် ထုတ်လုပ်ဖြန့်ဖြူးခြင်း လုပ်ငန်းစဉ်တွင် အသုံးပြုသည့် သစ်သား အောက်ခံပြားများ နှင့် ကိရိယာများကို ငှားရမ်းခြင်းနှင့် ပြုပြင် ထိန်းသိမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်း) ကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုလွှာတင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြေပိုင်ရှင်ဖြစ်သော ဒေါ်တင်တင်ဦး(ခ) ဒေါ်နုနုဝင်း နှင့် Loscam Myanmar Ltd. တို့ အကြားချုပ်ဆိုမည့် မြေငှားရမ်းခြင်း သဘောတူစာချုပ် (မူကြမ်း)၊ မြေပိုင်ဆိုင်မှု အထောက်အထားများ၊ ကုမ္ပဏီ၏ သင်းဖွဲ့မှတ်တမ်း နှင့် သင်းဖွဲ့စည်းမျဉ်းတို့ကို ပူးတွဲတင်ပြထားပါသည်။

၃။ ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ စက်မှုဇုန်(၃)၊ မင်းကြီးမဟာ မင်းခေါင်လမ်း၊ မြေတိုင်းရပ်ကွက်အမှတ်(၆၄)၊ မြေကွက်အမှတ်(၅) ရှိ မြေ ၂.၀၀၉ ဧက (၈,၁၃၀.၁၄၂ စတုရန်းမီတာ)နှင့် ၁၅,၂၇၁ စတုရန်းပေရှိ သိုလှောင်ရုံ အဆောက်အဦတစ်လုံးကို တစ်နှစ်လျှင် ကျပ်သန်း ၆၀ (တစ်နှစ်တစ်စတုရန်းမီတာလျှင် ၇,၃၇၄.၉၅ ကျပ်နှုန်း)ဖြင့် မြေနှင့်အဆောက်အဦအား (၅) နှစ် ငှားရမ်းမည်ဖြစ်ကြောင်း စာချုပ် (မူကြမ်း) အား ပူးတွဲတင်ပြထားပါသည်။

၄။ လုပ်ငန်းသက်တမ်းကာလမှာ ၁၀ နှစ် ဖြစ်ပါသည်။ တည်ဆောက်ရေးကာလလိုအပ်ခြင်းမရှိပါကြောင်းနှင့် ကော်မရှင်ခွင့်ပြုမိန့်ရရှိသည့်နေ့တွင် လုပ်ငန်းစတင်ဆောင်ရွက်မည်ဖြစ်ပါသည်။

၅။ အဆိုပြုလုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်း ပမာဏမှာ အမေရိကန်ဒေါ်လာ ၀.၅၀ သန်း ဖြစ်၍ ပထမနှစ်တွင် အမေရိကန်ဒေါ်လာ ၁.၀၇ သန်း တန်ဖိုးရှိ လုပ်ငန်းသုံး ပစ္စည်းကိရိယာများ အား ပြည်ပမှ တင်သွင်းဆောင်ရွက်မည် ဖြစ်ပါသည်။

၆။ လုပ်ငန်းဆောင်ရွက်ရန် ပထမနှစ်တွင် ပြည်တွင်းဝန်ထမ်း (၂) ဦး နှင့် ပြည်ပမှ ကျွမ်းကျင် ဝန်ထမ်း(၂) ဦး၊ စုစုပေါင်း (၄) ဦးဖြင့် စတင်မည်ဖြစ်ပြီး (၆)နှစ်မြောက်တွင် ဝန်ထမ်း ၅၆ ဦးအထိ ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ US$ ၃၅၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ US$ ၁,၅၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ US$ ၂၅၀ လစာ မှာ အမြင့်ဆုံးလစာမှာ US$ ၃၅၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ပုံမှန်နှစ်တွင် ဝန်ဆောင်မှုပေးမည့်(ယူနစ်)နှင့် ဝန်ဆောင်ခနှုန်း (US$)တို့မှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | ဝန်ဆောင်မှု အမျိုးအစား | ဝန်ဆောင်မှုပေးမည့် (ယူနစ်)/တစ်နှစ် | တစ်ယူနစ်နှုန်း (US$)/year | ပုံမှန်နှစ် ဝင်ငွေ(US$သန်း) |
|---|---|---|---|---|
| (က) | Pallets on Hire | ၅၇၈,၀၀၀ | ၆.၈၅ | ၃.၉၆ |

၈။ အဆိုပြုလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (၆နှစ်မြောက်)တွင် ကုမ္ပဏီမှရရှိမည့် အကျိုး အမြတ်မှာအောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အကြောင်းအရာ | US$ (သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၃.၉၆ |
| (ခ) | အသုံးစရိတ် | ၃.၃၆ |
| (ဂ) | အသားတင်အမြတ် | ၀.၆၀ |

၉။ ဤလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ် (၆နှစ်မြောက်) တွင် ရရှိမည့်အကျိုး အမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် US$ ၀.၂၀ သန်း နှင့် ကုန်သွယ်လုပ်ငန်းခွန် US$ ၀.၂၀ သန်း ဖြစ်ပါ သည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၈)နှစ် ဖြစ်၍ အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ် နှုန်း (IRR) မှာ ၁၈.၇ ရာခိုင်နှုန်း ဖြစ်ပါသည်။

၁၀။ အဆိုပြုလုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားလာ ပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့** **(နောက်ဆက်တွဲ-က)**

ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်နေရာသည်နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်း ကို ထိခိုက်နိုင်ခြင်းမရှိပါကြောင်း၊ အဆိုပြုလုပ်ငန်း လုပ်ကိုင်ပါက ပြည်တွင်းလုပ်သား အင်အား ၁၁၅ ဦး၊ နိုင်ငံခြားသားပညာရှင် ၂ ဦး အလုပ်အကိုင်ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသ အလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူ ဖြစ်စေပါကြောင်း၊ အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန် ရန်ကုန်တိုင်းဒေသကြီး၊ ပိုလ်တထောင်မြို့နယ်၊ မဟာဗန္ဓုလလမ်းနှင့်သိမ်ဖြူလမ်းထောင့် Union Financial Centre (UFC)၊ (၈)လွှာနှင့် လုပ်ငန်းနေရာအဖြစ် အမှတ်(၅)၊ မင်းကြီးမဟာမင်းခေါင် လမ်း၊ ရွှေပြည်သာစက်မှုဇုန်(၃)၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိမြေ ၂.၀၀၉ ဧကနှင့် အဆောက်အဦ (၁၅,၂၇၁ စတုရန်းပေ) အား တစ်နှစ်လျှင်

(1sqft=32.5$)နှုန်းနှင့် (၅) နှစ်ငှားရမ်းဆောင်ရွက်ခြင်းအပေါ် ဒေသခံများကလူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရလက်ခံနိုင်ခြင်းရှိပါကြောင်း၊ လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်း လုပ်ကိုင်ရာတွင် သဘာဝပတ်ဝန်းကျင်အားထိခိုက်မှုမရှိစေရန်စီမံဆောင်ရွက်မည်ဟု တင်ပြထားပါကြောင်း၊ (၁၀-၃-၂၀၁၆) ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေး အမှတ်စဉ်(၁၀/၂၀၁၆) ဆုံးဖြတ်ချက်အပိုဒ်(၁၅)အရ Loscam Myanmar Limited ၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြထားပါသည်။

(ခ) **သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန (နောက်ဆက်တွဲ-ခ)** အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေး နှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန် နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေး အကျိုးပြုလုပ်ငန်းများ တာဝန်ခံ ဆောင်ရွက်မှု (Corporate Social Responsibility – CSR) အတွက် အသားတင်အမြတ်ငွေ၏ (၁%) အား အသုံးပြုခြင်းတို့ အပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်၊ အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင် နှင့် လူမှုရေး ထိခိုက်မှုမရှိစေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံး ဖြစ်စေရေးတို့အတွက် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination – IEE) ကိုဆောင်ရွက်ပြီး အစီရင်ခံစာ ရေးဆွဲတင်ပြရန်၊ အထက်ပါ ဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင် နှင့် လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ် စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးစေရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေစသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)ကို ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်၊ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များ၊ ရန်ကုန်မြို့တော်စည်ပင်သာယာရေးဥပဒေ၊ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်ရန်၊ သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများ ရယူဆောင်ရွက်ရန် သဘောထားမှတ်ချက်ပြန်ကြားထားပါသည်။ **(ကုမ္ပဏီမှ သယံဇာတနှင့် သဘာဝ**

ပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏သဘောထားမှတ်ချက်နှင့်အညီ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေများကို လိုက်နာ ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း တင်ပြထားပါသည်။)

၁၁။ ငွေကြေးအထောက်အထားများအဖြစ် Loscam Asia Private Limited (စင်ကာပူရုံးခွဲ) အမည်ဖြင့် HSBC Limited (ဟောင်ကောင်ဘဏ်ခွဲ) ၌ ၂၀၁၅ ခုနှစ်၊ ဒီဇင်ဘာ လ ၃၁ ရက်နေ့ ၌ USD ၈၅၈,၁၁၁ ရှိကြောင်း နှင့်China Merchants Loscam (Asia Pacific) Co., Limited အမည်ဖြင့် ၂၀၁၅ ခုနှစ်၊ ဒီဇင်ဘာလ ၃၁ ရက်နေ့တွင် HSBC (ဟောင်ကောင်ဘဏ်ခွဲ)၌ USD ၁၃,၃၅၄,၈၄၂.၆၇ ရှိကြောင်း တင်ပြထားပါသည်။

၁၂။ မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်ရေးအတွက် မီးသတ်ဆေးဘူးများ၊ သဲအိတ်များ၊ ရေလှောင်ကန်များထားရှိမည်ဖြစ်ပြီး၊ ဝန်ထမ်းများအား မီးသတ်သင်တန်းပေးခြင်း ဆောင်ရွက်မည်ဖြစ်ကြောင်းတင်ပြထားပါသည်။

၁၃။ အလုပ်သမားသက်သာချောင်ချိရေးစီမံချက်၊ ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန်ဆောင်ရွက်မည့်အစီအစဉ်၊ စက်ရုံဝန်ထမ်းများအတွက် လစာဝင်ငွေခွန်ပေးဆောင်မည့်အစီအစဉ်၊ လျှပ်စစ်ဓါတ်အားသုံးစွဲမှု အစီအမံတို့ကို တင်ပြထားပြီး လူမှုဘဝသာယာဝပြောရေး (Corporate Social Responsibility - CSR) အတွက် နှစ်စဉ် အသားတင်အမြတ် ၏ ၁ % ထားရှိ ဆောင်ရွက်မည်ဖြစ်ကြောင်းတင်ပြထားပါသည်။

၁၄။ အဆိုပြုလုပ်ငန်းအား အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီ လ ၈ ရက်နေ့တွင် ကျင်းပပြုလုပ်သော (၆/၂၀၁၆)အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

**စိစစ်တင်ပြချက်**

၁၅။ (က) ကုမ္ပဏီ၏စုစုပေါင်းမတည်ငွေရင်းမှာ အမေရိကန်ဒေါ်လာ ၀.၅ သန်း ဖြစ်၍ ပထမနှစ်တွင် ပြည်ပဝန်ထမ်း ၂ ဦး၊ ပြည်တွင်းဝန်ထမ်း ၂ ဦး စုစုပေါင်းဝန်ထမ်းအင်အား ၄ ဦးဖြင့်စတင် မည်ဖြစ်ပြီး ခြောက်နှစ်မြောက်တွင် ဝန်ထမ်း ၅၆ ဦး ထိ ခန့်ထားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

(ခ) Loscam Myanmar Limited သည် wooden pallet ၊ plastic pallets ၊ pallet Cage နှင့် Retail Ready Packaging တို့တွင်အသုံးပြုနိုင်သည့် pool product များကို ပြည်တွင်း/ပြည်ပ ကုမ္ပဏီများမှ ဝယ်ယူ၍ ငှားရမ်းခြင်း၊ ပြုပြင်ထိန်းသိမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်းအား ဆောင်ရွက်မည်ဖြစ်ကြောင်း နှင့် ပို့ကုန်/သွင်းကုန် လုပ်ငန်းများတွင်လည်း ဝန်ဆောင်မှုပေးမည်ဖြစ်ကြောင်း လုပ်ငန်းသဘာဝ ရှင်းလင်းချက် နှင့်အတူတင်ပြထားပါသည်။

(ဂ) Loscam သည် အာရှနှင့် ပစိဖိတ်ဒေသအတွင်း Australia ၊ Malaysia ၊ Indonesia ၊ Hong Kong ၊ Thailand ၊ Philippines ၊ Singapore ၊ Vietnam ၊ China နှင့် New Zealand နိုင်ငံတို့တွင်လည်း Returnable Products & Services Provider အဖြစ် လုပ်ငန်းဆောင်ရွက်လျက်ရှိကြောင်း တင်ပြထားပါသည်။

(ဃ) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၆ ခုနှစ်၊ မတ်လ ၂၁ ရက်နေ့တွင်ထုတ်ပြန်ခဲ့သော အမိန့်ကြော်ငြာစာ ၂၆/၂၀၁၆ အရ ခွင့်မပြုသည့် စီးပွားရေးလုပ်ငန်း အမျိုးအစားစာရင်းတွင် ပါဝင်ခြင်းမရှိကြောင်း စိစစ်ရပါသည်။

(င) ကုမ္ပဏီသည် ပထမနှစ်တွင် အမေရိကန်ဒေါ်လာ ၁.၀၃ သန်း တန်ဖိုး နှင့် ရင်းနှီးမြှုပ်နှံမှု သက်တမ်းကာလ ၁၀နှစ် အတွင်း စုစုပေါင်း အမေရိကန်ဒေါ်လာ ၁၃.၈၁၈ သန်း တန်ဖိုးရှိ Wooden Pallets၊ Plastic Pallets၊ Crates၊ Containers၊ Totes များ၊ Wooden Pallet Repair Components (timbers၊ nails၊ paint) များ၊ Depot Equipment and Tools များကို ပြည်ပမှ တင်သွင်းဆောင်ရွက်မည်ဖြစ်ကြောင်း စိစစ်ရပါသည်။

(စ) ကုမ္ပဏီအနေဖြင့် အဆိုပြုလုပ်ငန်းဆောင်ရွက်ရန် တည်ဆောက်ရေးကာလ တင်ပြထားခြင်းမရှိပါကြောင်းနှင့် ဝင်ငွေခွန်ကင်းလွတ်ခွင့် ၅ နှစ်ကိုသာ ခံစားရရှိနိုင်မည်ဖြစ်ကြောင်း စိစစ်တင်ပြအပ်ပါသည်။

(ဆ) Loscam Myanmar Ltd. သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် လုပ်ငန်း မြေနေရာနှင့် သိုလှောင်ရုံအား နှစ်ရှည်ငှားရမ်း ဆောင်ရွက်လိုခြင်း၊ လုပ်ငန်းတွင် အသုံးပြုရန်လိုအပ်သည့် pallet Kits ၊ machineries နှင့် equipment များ တင်သွင်းလိုခြင်း၊ ပြည်တွင်း/ ပြည်ပ customer များ၏ ကုန်ပစ္စည်းများ import & export ဆောင်ရွက်ရာတွင် အသုံး ပြုမည့် Pallet များ (Cross Border Palletized Goods Movement) ဆောင်ရွက်ရာတွင် အဆင်ပြေစွာဆောင်ရွက်နိုင်ရန်အတွက် ကော်မရှင်ခွင့်ပြုမိန့်ဖြင့် ဆောင်ရွက်လိုခြင်းဖြစ်ကြောင်း စိစစ်တင်ပြအပ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၆။ သို့ဖြစ်ပါ၍ Loscam Myanmar Ltd. မှ Providing pallet and other supply chain equipment rental and pooling solutions services (ပစ္စည်းများသိုလှောင်ခြင်း၊ ရွှေ့ပြောင်းခြင်း နှင့် ထုတ်လုပ်ဖြန့်ဖြူးခြင်းလုပ်ငန်းစဉ်တွင် အသုံးပြုသည့် သစ်သားအောက်ခံပြားများ နှင့် ကိရိယာများကို ငှားရမ်းခြင်းနှင့် ပြုပြင်ထိန်းသိမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်း) အား ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ဆောင်ရွက်ခွင့် တင်ပြလာခြင်းအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုမိန့်ထုတ် ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ

**ကုမ္ပဏီဒါရိုက်တာနှင့်အစုရှင်များ၏နေရပ်လိပ်စာစာရင်း**

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/အစုရှင်များ၏အမည် | ဒါရိုက်တာ/အစုရှင်များ၏ ဆက်သွယ်ရန်လိပ်စာ |
|---|---|---|---|
| | Loscam Myanmar Ltd. | Loscam Asia Private Limited Representative By | |
| | | (1) Mr. Sirin Limpaitoon<br>Managing Director<br>Thai<br>AA1443702 | 99/53 Pruekpirom-Regent Villa, Rachapruek 10 Road, Bangphrom, Talingchan, Bangkok 10170, Thailand. |
| | | (2) Mr. Tan Leng Aun<br>Director<br>Malaysia<br>A29007779 | 37 Joo Koon Circle, Jurong, 629062, Singapore. |
| | | China Merchants Loscam (Asia Pacific) Co., Ltd. | |
| | | (3) Mr. Tsui Suet Lai Linda<br>Director<br>Chinese<br>KJ0156015 | Unit 3103-6, 31/F, Infinitus Plaza, 199 Des Voeux Road Central, Hong Kong. |

၁။ ဆက်သွယ်ရမည့်တယ်လီဖုန်းနံပါတ် - ၀၉- ၄၂၁၁၁၅၂၃၉

၂။ ဆက်သွယ်ရမည့်လိပ်စာအပြည့်အစုံ - ၈လွှာ-A၊ Union Financial Centre (UFC)၊ မဟာဗန္ဓုလလမ်းနှင့် သိမ်ဖြူလမ်းထောင့်၊ ဗိုလ်တထောင်မြို့နယ်၊ ရန်ကုန်မြို့။

၃။ ဆက်သွယ်ရမည့်ပုဂ္ဂိုလ်အမည်၊ ရာထူး - Mr. Tan Leng Aun (Director)

၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ - Providing pallet and other supply chain equipment rental and pooling solutions services (ပစ္စည်းများသိုလှောင်ခြင်း၊ရွှေ့ပြောင်းခြင်းနှင့် ထုတ်လုပ်ဖြန့်ဖြူးခြင်း လုပ်ငန်းစဉ်တွင် အသုံးပြုသည့် သစ်သားအောက်ခံပြားများ နှင့် ကိရိယာများကို ငှားရမ်းခြင်းနှင့် ပြုပြင်ထိန်းသိမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်း)

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်/နေ့စွဲ - ၂၃၉ အက်ဖ်စီ/၂၀၁၅-၂၀၁၆(၁၆-၆-၂၀၁၅)

၆။ ကုမ္ပဏီမှတ်ပုံတင်သက်တမ်းကုန်ဆုံးသည့်နေ့စွဲ - ၁၅-၆-၂၀၂၀

၇။ ဘဏ်အမည်နှင့်ဘဏ်စာရင်းအမှတ် - -

Annex E-5b (a)

List of Key items of equipment to be imported for operations*

| | DESCRIPTION | Qty | | | | | | | | | | | UNIT PRICE (USD) | Total (USD) Imports | Energy consumption |
|---|---|---|---|---|---|---|---|---|---|---|---|---|---|---|---|
| | | Year 1 | Year 2 | Year 3 | Year 4 | Year 5 | Year 6 | Year 7 | Year 8 | Year 9 | Year 10 | Total | | | |
| | 1. HIRE EQUIPMENT (CAPITALISED TO FIXED ASSETS) - IMPORTED WP WILL GENERALLY BE IN KIT/COMPONENT FORM FOR LOCAL MANUFACTURE -TABLE BELOW PROVIDES DATA IN COMPONENT FORM | | | | | | | | | | | | | | |
| 1.01 | Total Wooden Pallets | 42,400 | 83,200 | 64,200 | 61,800 | 64,200 | 41,600 | 42,800 | 41,600 | 42,800 | 41,600 | 526,200 | 11.34 | 5,964,743 | Nil |
| 1.02 | Plastic Pallets/ Crates/ Containers/Totes *** | 5,000 | 5,000 | 5,000 | 5,000 | 5,000 | 5,000 | 5,000 | 5,000 | 5,000 | 5,000 | 50,000 | 50 | 2,500,000 | Nil |
| 1.03 | Pallet Cages*** | 5,000 | 5,000 | 5,000 | 5,000 | 5,000 | 5,000 | 5,000 | 5,000 | 5,000 | 5,000 | 50,000 | 50 | 2,500,000 | Nil |
| | **Total Imported (USD)** | 980,625 | 1,443,114 | 1,227,739 | 1,200,534 | 1,227,739 | 971,557 | 985,160 | 971,557 | 985,160 | 971,557 | 10,964,743 | | **10,964,743** | |
| | 2.WOODEN PALLET REPAIR COMPONENTS(EXPENSED) | | | | | | | | | | | | | | |
| 2.01 | Timber m3 | - | 83 | 177 | 379 | 506 | 464 | 606 | 767 | 944 | 1,138 | 5,063 | 206.75 | 1,046,769 | Nil |
| 2.02 | Nails | - | 540,800 | 1,146,600 | 2,457,000 | 3,283,800 | 3,010,800 | 3,936,400 | 4,976,400 | 6,125,600 | 7,384,000 | 32,861,400 | 0.01 | 275,420 | |
| 2.03 | Paint - litres | - | 1,664 | 3,528 | 7,560 | 10,104 | 9,264 | 12,112 | 15,312 | 18,848 | 22,720 | 101,112 | 5.45 | 550,844 | Nil |
| | **Total Imported (USD)** | 0 | 30,825 | 65,354 | 140,044 | 187,170 | 171,609 | 224,367 | 283,645 | 349,147 | 420,873 | 1,873,033 | | **1,873,033** | |
| | **3. DEPOT EQUIPMENT AND TOOLS** | | | | | | | | | | | | | | |
| 3.01 | Paint Spray Air lines | 1 | - | - | - | 1 | - | - | - | - | - | 2 | 1,500 | 3,000 | **11,440 Kwh** |
| 3.02 | Compressor | 1 | - | - | - | 1 | - | - | - | - | - | 2 | 2,000 | 4,000 | **10-20 hp** |
| 3.03 | Manual Conveyor lines | 4 | - | - | - | 4 | - | - | - | - | - | 8 | 10,000 | 80,000 | Nil |
| 3.04 | Automated repair equipment *** | - | - | - | - | 1 | - | - | 1 | - | - | 2 | 400,000 | 800,000 | **572,000 Kwh** |
| 3.05 | Repair Tables | 2 | 2 | 2 | 2 | 2 | 2 | 2 | 2 | 2 | 2 | 20 | 150 | 3,000 | Nil |
| 3.06 | Nail Guns | 10 | 10 | 10 | 10 | 10 | 10 | 10 | 10 | 10 | 10 | 100 | 100 | 10,000 | **4,576 Kwh** |
| 3.07 | Small tools, including saws and saw blades, hammers, levers etc | 20 | 20 | 20 | 20 | 20 | 20 | 20 | 20 | 20 | 20 | 200 | 200 | 40,000 | Nil |
| 3.08 | Spare parts | 20 | 20 | 20 | 20 | 20 | 20 | 20 | 20 | 20 | 20 | 200 | 200 | 40,000 | Nil |
| | **Total imported (USD)** | 52,800 | 9,300 | 9,300 | 9,300 | 452,800 | 9,300 | 9,300 | 409,300 | 9,300 | 9,300 | 980,000 | | **980,000** | |
| | **Grand Total Imports** | **1,033,425** | **1,483,239** | **1,302,393** | **1,349,878** | **1,867,709** | **1,152,467** | **1,218,826** | **1,664,502** | **1,343,606** | **1,401,730** | **13,817,776** | | 13,817,776 | |

Note * All figures are are estimated based on a 10 year projection

*** Not included in base plan , but will be purchased as required.

**List of Key items of equipment to be sourced locally for operations***

Annex E-5b - b

| | DESCRIPTION | Qty | | | | | | | | | | Energy consumption | Source** |
|---|---|---|---|---|---|---|---|---|---|---|---|---|---|
| | | **Year 1** | **Year 2** | **Year 3** | **Year 4** | **Year 5** | **Year 6** | **Year 7** | **Year 8** | **Year 9** | **Year 10** | **Total** | | |
| | 1. HIRE EQUIPMENT (CAPITALISED TO FIXED ASSETS) - IMPORTED WP WILL GENERALLY BE IN KIT/COMPONENT FORM FOR LOCAL MANUFACTURE -TABLE BELOW PROVIDES DATA IN COMPONENT FORM | | | | | | | | | | | | | |
| 1.01 | Total Wooden Pallets | 10,600 | 20,800 | 42,800 | 41,200 | 42,800 | 62,400 | 64,200 | 62,400 | 64,200 | 62,400 | 473,800 | | Local |
| 1.02 | Plastic Pallets/ Crates/ Containers/ Totes *** | | | | | | | | | | | | | Local |
| 1.03 | Pallet Cages*** | | | | | | | | | | | | | Local |
| | **Total Quantity** | 10,600 | 20,800 | 42,800 | 41,200 | 42,800 | 62,400 | 64,200 | 62,400 | 64,200 | 62,400 | 473,800 | | |
| | **2.WOODEN PALLET REPAIR COMPONENTS(EXPENSED)** | | | | | | | | | | | | | |
| 2.01 | Timber m3 | 0 | 21 | 118 | 252 | 337 | 696 | 910 | 1,150 | 1,416 | 1,707 | 6,606 | | Local |
| 2.02 | Nails | - | 135,200 | 764,400 | 1,638,000 | 2,189,200 | 4,516,200 | 5,904,600 | 7,464,600 | 9,188,400 | 11,076,000 | 42,876,600 | | Local |
| 2.03 | Paint - litres | - | 416 | 2,352 | 5,040 | 6,736 | 13,896 | 18,168 | 22,968 | 28,272 | 34,080 | 131,928 | | Local |
| | **Total Quantity** | 0 | 135,637 | 766,870 | 1,643,292 | 2,196,273 | 4,530,792 | 5,923,678 | 7,488,718 | 9,218,088 | 11,111,787 | 43,015,134 | | |
| | **3. DEPOT EQUIPMENT AND TOOLS** | | | | | | | | | | | | | |
| 3.01 | Paint Spray Air lines | - | - | - | - | - | - | - | - | - | - | | per year | Local |
| 2 | Compressor | - | - | - | - | | - | - | - | - | - | | | Local |
| 3.03 | Manual Conveyor lines | - | - | - | - | - | - | - | - | - | - | - | | Local |
| 3.04 | Automated repair equipment *** | - | - | - | - | - | - | - | - | - | - | - | per year | Local |
| 3.05 | Repair Tables | - | - | - | - | - | - | - | - | - | - | - | | Local |
| 3.06 | Nail Guns | - | - | - | - | - | - | - | - | - | - | - | per year | Local |
| 3.07 | Small tools, including saws and saw blades, hammers, levers etc | 40 | 40 | 40 | 40 | 40 | 40 | 40 | 40 | 40 | 40 | 400 | | Local |
| 3.08 | Spare parts | 40 | 40 | 40 | 40 | 40 | 40 | 40 | 40 | 40 | 40 | 400 | | Local |
| | **Total Quantity** | 80 | 80 | 80 | 80 | 80 | 80 | 80 | 80 | 80 | 80 | 800 | | |
| | **4. OFFICE EQUIPMENT (All locally sourced)** | | | | | | | | | | | | | |
| 4.01 | Furnitures and fixtures including desks, cabinets, shelves, and chairs | 4 | 2 | 2 | 2 | 2 | 2 | 2 | 2 | 2 | 2 | 22**** | Nil | Local |
| 4.02 | IT and Telecommunications equipment including laptops, printers, cellular phones | 4 | 2 | 2 | 2 | 2 | 2 | 2 | 2 | 2 | 2 | 22**** | Minimal | Local |
| 4.03 | Marketing and product demonstration materials, including sampling materials | 20 | 20 | 20 | 20 | 20 | 20 | 20 | 20 | 20 | 20 | 200 | Nil | Local |
| | Total | 28 | 24 | 24 | 24 | 24 | 24 | 24 | 24 | 24 | 24 | 244 | | |
| | **Grand Total Local Sourced** | **10,708** | **156,541** | **809,774** | **1,684,596** | **2,239,177** | **4,593,296** | **5,987,982** | **7,551,222** | **9,282,392** | **11,174,291** | **43,489,978** | | |

**Note** * All figures are are estimated based on a 10 year projection

** Items will be imported only if such items cannot be source locally in the quantity and quality required for the operations of the Company

*** Not included in base plan , but will be purchased as required.

**** Excluding repairers

နောက်ဆက်တွဲ-က

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တိုင်းဒေသကြီးအစိုးရအဖွဲ့
# ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ ( ၄၃ ) / စိုက်မွေး
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ မတ် လ ၂၃ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၉. ၂. ၂၀၁၆)ရက်စွဲပါစာအမှတ်၊ ရကာ - ၅(အ)/ န-၀၁၅/၂၀၁၆(၁၀၂)

၁။ စင်ကာပူနိုင်ငံ Loscam Asia Private Limited မှ ၉၉. ၉၉၈%၊ ဟောင်ကောင် China Merchants Loscam (Asia Pacific) Co., Limited. မှ ၀. ၀၀၂% ထည့်ဝင်ကာ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Loscam Myanmar Limited တည်ထောင်၍ ရုံးခန်းနေရာအဖြစ် ရန်ကုန်တိုင်းဒေသကြီး၊ ဗိုလ်တထောင်မြို့နယ်၊ မဟာဗန္ဓုလလမ်းနှင့် သိမ်ဖြူလမ်းထောင့် Union Financial Centre (UFC)၊ (၈)လွှာနှင့် လုပ်ငန်းနေရာအဖြစ် အမှတ်(၅)၊ မင်းကြီးမဟာမင်းခေါင်လမ်း၊ ရွှေပြည်သာစက်မှုဇုန်(၃)၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေ ၂. ၀၀၉ ဧကနှင့် အဆောက်အဦ(၁၅,၂၇၀ စတုရန်းပေ)အား ငှားရမ်းကာ Pallet and other supply chain equipment rental and pooling solutions service provider (ပစ္စည်းများသိုလှောင်ခြင်း၊ ရွှေ့ပြောင်းခြင်းနှင့် ထုတ်လုပ်ဖြန့်ဖြူးခြင်းလုပ်ငန်းစဉ်တွင် အသုံးပြုသည့် သစ်သားအောက်ခံပြားများနှင့် ကိရိယာများကို ငှားရမ်းခြင်းနှင့် ပြင်ဆင်ထိန်းသိမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်း)ကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာခြင်းအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာခြင်းနှင့်စပ်လျဉ်း၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါ။

(ခ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား(၁၁၅)ဦးနှင့် ပြည်ပလုပ်သားအင်အား (၂)ဦး အလုပ်အကိုင်ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေပါသည်။

(ဂ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန် ရုံးခန်းနေရာအဖြစ် ရန်ကုန်တိုင်းဒေသကြီး၊ ဗိုလ်တထောင်မြို့နယ်၊ မဟာဗန္ဓုလလမ်းနှင့် သိမ်ဖြူလမ်းထောင့် Union Financial Centre (UFC)၊ (၈)လွှာနှင့် လုပ်ငန်းနေရာအဖြစ် အမှတ်(၅)၊ မင်းကြီးမဟာမင်းခေါင်လမ်း၊ ရွှေပြည်သာစက်မှုဇုန်(၃)၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေ ၂. ၀၀၉ ဧကနှင့် အဆောက်အဦ(၁၅,၂၇၀ စတုရန်းပေ)အား တစ်နှစ်လျှင် ( 1sqm=32.5$) နှုန်းဖြင့် (၅)နှစ် ငှားရမ်းဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိပါသည်။

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝ ပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါသည်။

၂။ အထက်ဖော်ပြပါအချက်များကြောင့် (၁၁. ၃. ၂၀၁၆)ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့အစည်းအဝေးအမှတ်စဉ် (၁၁/၂၀၁၆)၊ ဆုံးဖြတ်ချက်အပိုဒ်(၁၅)အရ Loscam Myanmar Limited ၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

မိတ္တူကို

ရန်ကုန်တိုင်းဒေသကြီးဘဏ္ဍာရေးဝန်ကြီး
ရန်ကုန်(အရှေ့ပိုင်း/မြောက်ပိုင်း)ခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
(ဗိုလ်တထောင်/ရွှေပြည်သာ)မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Loscam Myanmar Limited
လက်ခံစာတွဲ
မျှောစာတွဲ

နောက်ဆက်တွဲ-ခ

M4 - 255
17.3.16

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/ MIC(OSS) /၀၁( ၁၈ / ၁၆ )
ရက်စွဲ၊ ၂၀၁၆ခုနှစ် မတ်လ ၁၇ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့

အကြောင်းအရာ။ Loscam Myanmar Limited မှ Pallet and other supply chain equipment rental and pooling solutions service provider ကို **ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၉-၂-၂၀၁၆ ရက်စွဲပါစာအမှတ်၊ ရက-၅(အ)/ ၃-၀၁၅/ ၂၀၁၆(၁၀၁)

၁။ စင်္ကာပူနိုင်ငံ Loscam Asia Private Limited မှ ၉၉.၉၉၈%၊ ဟောင်ကောင် China Merchants Loscam (Asia Pacific)Co., Limited မှ ၀.၀၀၂%ထည့်ဝင်ကာ Loscam Myanmar Limited တည်ထောင်၍ ရုံးခန်းနေရာအဖြစ် ရန်ကုန်တိုင်းဒေသကြီး၊ ဗိုလ်တထောင်မြို့နယ်၊မဟာဗန္ဓုလလမ်းနှင့်သိမ်ဖြူလမ်းထောင့် Union Financial Centre (UFC)(၈)လွှာနှင့်လုပ်ငန်းနေရာအဖြစ်အမှတ်-၅၊ မင်းကြီးမဟာမင်းခေါင်လမ်း၊ ရွှေပြည်သာစက်မှုဇုန်(၃)၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်မြို့ရှိ မြေ ၂.၀၀၉ ဧကနှင့်အဆောက်အဦ (၁၅၂၇၀ စတုရန်းပေ)အားငှားရမ်း၍ Pallet and other supply chain equipment rental and pooling solutions service provider ပစ္စည်းများသိုလှောင်ခြင်း၊ ရွှေ့ပြောင်းခြင်းနှင့် ထုတ်လုပ်ဖြန့်ဖြူးခြင်းလုပ်ငန်းစဉ်တွင် အသုံးပြုသည့်သစ်သားအောက်ခံပြားများနှင့်ကိရိယာများ ကိုငှားရမ်းခြင်းနှင့်ပြင်ဆင်ထိန်းသိမ်းခြင်းဝန်ဆောင်မှုလုပ်ငန်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီး သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့်အကြောင်းကြားလာပါသည်။

၂။ ပေးပို့လာသော အဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာ (၁၀)နှစ်ဖြစ်ပြီး လုပ်ငန်းခွင်ဘေးအန္တရာယ်ကင်းရှင်းရေး၊ ဝန်ထမ်းသက်သာချောင်ချိရေးနှင့် မီးဘေးကာကွယ်ရေးစီမံချက်

များကိုလည်း ထားရှိဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ လုပ်ငန်းမှရရှိလာမည့်အသားတင်အမြတ်ငွေ၏(၁%)ကို လူမှုရေးအကျိုးပြုလုပ်ငန်းများတာဝန်ခံဆောင်ရွက်မှု ( Corporate Social Responsibility–CSR)လုပ်ငန်းများတွင်ထည့်သွင်း အသုံးပြုသွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်ပတ်သက်၍ နိုင်ငံတကာစံချိန်စံညွှန်းများနှင့်အညီစီမံခန့်ခွဲ ဆောင်ရွက်သွားမည်ဖြစ်ပြီး နိုင်ငံတော်မှထုတ်ပြန်ထားသည့်ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်းဖော်ပြပါရှိပါသည်။

၃။ Loscam Myanmar Limited မှလုပ်ငန်းများဆောင်ရွက်ရာတွင် ဓါတုဗေဒပစ္စည်းများအားသုံးစွဲရန်လိုအပ်ခြင်းကြောင့် ကုန်ကြမ်းပစ္စည်းများသိုလှောင်ခြင်း၊ သုံးစွဲခြင်းလုပ်ငန်း၊ အဆင့်ဆင့်မှစွန့်ပစ်ပစ္စည်းနှင့်စွန့်ပစ်အရည်များ၊ သစ်အမှုန်အမွှားများ၊ အနံ့အသက်များကြောင့်ပတ်ဝန်းကျင်တွင်ရေ၊ မြေ၊ လေညစ်ညမ်းမှုဖြစ်ပေါ်နိုင်ခြင်း၊ စက်ရုံလည်ပတ်ခြင်းမှထွက်ရှိလာမည့်ဆူညံသံများကြောင့် အသံညစ်ညမ်းခြင်း၊ သစ်လုံးခွဲရာတွင်လွှများ၊ အခြားကိရိယာပစ္စည်းများအားစနစ်တကျတပ်ဆင်ခြင်းမရှိပါက အလုပ်သမားများအန္တရာယ်ဖြစ်နိုင်ခြင်း၊ စက်ရုံအနီးတဝိုက်ပြည်သူများ၏ကျန်းမာရေးထိခိုက်စေနိုင်ခြင်း စသည့်ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများဖြစ်ပေါ်လာနိုင်ပါသည်။

၄။ Loscam Myanmar Limited သစ်အခြေခံစက်မှုလုပ်ငန်းများတည်ထောင်ခြင်းသည်သစ်တောဥပဒေ၊လုပ်ထုံးလုပ်နည်းများနှင့်အညီစိစစ်ဆောင်ရွက်ရန်လိုအပ်မည်ဖြစ်ပြီး တပ်ဆင်မည့်စက်အင်အားကိုဖော်ပြထားရှိခြင်းမရှိ၍ စိစစ်နိုင်ခြင်းမရှိပါကြောင်း၊ သစ်ကုန်ကြမ်းရရှိရေးအတွက် မြန်မာ့သစ်လုပ်ငန်းမှပြုလုပ်ကျင်းပသည့်ပြည်တွင်း/ပြည်ပရောင်းဝယ်ရေးနှင့်သစ်စက်ဌာနများ၏အိတ်ဖွင့်တင်ဒါများတွင် ဝင်ရောက်ယှဉ်ပြိုင်ဝယ်ယူနိုင်ပြီး ရေရှည်ကုန်ကြမ်းရရှိရေးအတွက် သစ်တောဦးစီးဌာနမှကျင်းပသည့် ပုဂ္ဂလိကသစ်တောစိုက်ခင်းစိုက်ပျိုးတည်ထောင်ခွင့်အိတ်ဖွင့်တင်ဒါ၌ ဝင်ရောက်ယှဉ်ပြိုင်ဝယ်ယူဆောင်ရွက်နိုင်ပါကြောင်း၊ ကုမ္ပဏီအနေဖြင့်သစ်ကုန်ကြမ်းများကို ပြည်ပမှဝယ်ယူတင်သွင်းခြင်းအားဖြင့်လည်း နိုင်ငံပိုင်သစ်တောသယံဇာတအရင်းအမြစ်များကိုချွေတာနိုင်ပါသဖြင့်နိုင်ငံတကာမှတားမြစ်ခံထားခြင်းမရှိသည့် သစ်မျိုးများအားတင်သွင်း၍လည်းကုန်ကြမ်းလိုအပ်ချက်အားဖြည့်ဆည်းနိုင်ပါကြောင်းဖော်ပြအပ်ပါသည်။

၅။ သို့ဖြစ်ပါ၍ Loscam Myanmar Limited မှလုပ်ငန်းများဆောင်ရွက် ခွင့်ပြုပါရန် ကိစ္စနှင့်ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည် -

(က) အဆိုပြုလုပ်ငန်းများကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီးလုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့်နည်းစနစ်များအား အသုံးပြုရန်နှင့်အဆိုပြုလွှာတွင်ဖော်ပြထားသည့်လူမှုရေးဆိုင်ရာတာဝန်ခံမှု ( Corporate Social Responsibility - CSR)အတွက်အသားတင်အမြတ်ငွေ၏(၁%)အားအသုံးပြုခြင်းတို့အပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ခ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေး ထိခိုက်မှုမရှိစေရေး(သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးတို့အတွက် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း ( Initial Environmental Examination –IEE )ကိုဆောင်ရွက်ပြီး အစီရင်ခံစာရေးဆွဲတင်ပြရန်။

(ဂ) အထက်ပါလေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေး ထိခိုက်မှုမဖြစ်ပေါ်စေရေး(သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ် စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးစေရေးဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် ( Environmental Manangement Plan – EMP )ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များ၊ ရန်ကုန်မြို့တော်စည်ပင်သာယာရေးဥပဒေ၊ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီလိုက်နာဆောင်ရွက်ရန်။

(င) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံပြည်သူများ၏ဆန္ဒနှင့်သဘောထားများရယူဆောင်ရွက်ရန်။

(ဇော်မိုး)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ဒုတိယဝန်ကြီး(ပတ်ဝန်းကျင်)
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ

နောက်ဆက်တွဲ-ဂ

မြန်မာနိုင်ငံ အပြည်ပြည်ဆိုင်ရာ ကုန်စည်ပို့ဆောင်ရေး ဝန်ဆောင်မှုလုပ်ငန်းရှင်များအသင်း

**Myanmar International Freight Forwarders' Association**

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ။ ၀၃၀/MIFFA/၀၀၁(General)/၂၀၁၆

ရက်စွဲ၊ ။ ၂၀၁၆ ခုနှစ် မတ်လ ၁၀ ရက်

အကြောင်းအရာ။ ၁၀၀% နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် လုပ်ကိုင်မည့် Pallet and other Supply Chain equipment rental and pooling solutions Service Provider လုပ်ကိုင်ခြင်း အပေါ် သဘောထားမှတ်ချက်ပေးရန်ကိစ္စ။

ရည်ညွှန်းချက်။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁.၃.၂၀၁၆ ရက်စွဲပါ စာအမှတ် ရက-၅(အ)/၀၁၅/၂၀၁၆(၁၀၇)

ရည်ညွှန်းစာဖြင့် ဖော်ပြထားသော ၁၀၀% နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် လုပ်ကိုင်မည့် Pallet and other Supply Chain equipment rental and pooling solutions Service Provider လုပ်ကိုင်ခြင်းအပေါ် မြန်မာနိုင်ငံအပြည်ပြည်ဆိုင်ရာ ကုန်စည်ပို့ဆောင်ရေးဝန်ဆောင်မှုလုပ်ငန်းရှင်များအသင်းအနေဖြင့် Logistics လုပ်ငန်းအတွေ့အကြုံရှိပြီး လုပ်ကိုင်နိုင်စွမ်းရှိသော မြန်မာနိုင်ငံသားပိုင်ကုမ္ပဏီများ/ တစ်ခုနှင့် အကျိုးတူပူးပေါင်းဆောင်ရွက်ပါက နိုင်ငံသားပိုင် ကုမ္ပဏီများအတွက် အတွေ့အကြုံများ ရရှိနိုင်မည် ဖြစ်ပါသည်။ ထို့အပြင် ၁၀၀% နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် လုပ်ကိုင်မည့် ပြည်ပကုမ္ပဏီများ အနေဖြင့်လည်း ဓလေ့ထုံးတမ်း နိုင်ငံသားများ၏ ပံ့ပိုးမှု ရရှိနိုင်ပါသဖြင့် နှစ်ဦးနှစ်ဘက် အကျိုးရှိမည်ဟုလည်း ယုံကြည်မိပါသည်။

သို့ဖြစ်ပါသဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ [illegible] JV ဖြင့် လုပ်ငန်းဆက်လက်လုပ်ကိုင်ခွင့်ပြုပေးပါရန် သဘောထားမှတ်ချက် ပေးပို့အပ်ပါသည်။

လေးစားစွာဖြင့်

အောင်ခင်မြင့်

ဥက္ကဋ္ဌ

Member of:

AFFA FIATA UMFCCI

No(35-87), Lower Kyimyindyne Road, Alone Township,Yangon, The Union of Myanmar.

Tel / Fax : +95-1-2300236 E-mail: miffa@myanmar.com.mm, Websites : www.miffa.org /